

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အေဝိုင်အက်(စ်) အမ်အက်(ဖ်)ဂျီ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏ အမည်သည် ' အေဝိုင်အက်(စ်) အမ်အက်(ဖ်)ဂျီ ကုမ္ပဏီ လီမိတက် ' ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ် ၂,၀၀၀,၀၀၀,၀၀၀/- (ကျပ် သန်းနှစ်ထောင်တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/- (ကျပ် တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း ( ၂၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊

(ခ) ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊

(ဂ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊

(ဃ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများ နှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ၊ တစိတ်တဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှမဆို ငွေချေး ယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးကျော်ကျော်လွင် (ကုန်သည်)<br>အခန်းအမှတ်–၁၁၀၄၊ ရွှေဟသ်ာကွန်ဒို၊<br>ရွှေဟသ်ာလမ်း၊ လှိုင်မြို့နယ်၊<br>ရန်ကုန်မြို့။ | မြန်မာ<br>၇/ပမန(နိုင်)<br>၁၀၃၁၁၇ | ၂၅၀၀ | (လက်မှတ်) |
| ၂။ | ဦးပြည့်စုံဟိန်းဆွေ (ကုန်သည်)<br>အမှတ်–၂၇၅(ဒုတိယထပ်–ညာ)၊<br>လမ်း–၄၀၊ ကျောက်တံတားမြို့နယ်၊<br>ရန်ကုန်မြို့။ | မြန်မာ<br>၁၂/ကတတ(နိုင်)<br>၀၂၇၉၁၉ | ၂၅၀၀ | ပြည့်စုံဟိန်း (လက်မှတ်) |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၁ ရက်။

**အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

(လက်မှတ်)

ဦးကျော်ဝင်း (B.Sc., H G.P., R.L)
တရားလွှတ်တော်ရှေ့နေကြီး (၄၇၄၅)
၅၀/၀-ထပ်၊ အခန်း (စီ-၁)၊ ထက်ာလမ်း၊ ရန်ကုန်မြို့။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# အေဝိုင်အက်(စ်) အမ်အက်(ဖ်)ဂျီ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာမနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီ နှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ, တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ, တည်ငွေရင်းမှာ ကျပ် ၂,၀၀၀,၀၀၀,၀၀၀/-(ကျပ် သန်းနှစ်ထောင် တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/-(ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း (၂၀၀,၀၀၀) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲ ဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။

အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ်ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကိုတင်ပြ စေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင် တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင်ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ်ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦး ထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် –

(၁) ဦးကျော်ကျော်လွင်
(၂) ဦးပြည့်စုံဟိန်းဆွေ တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက်သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး( – )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန်တွေ့ဆုံဆွေးနွေးခြင်း၊အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး ထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁တွင် ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများသတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုသင့်တော်သောစည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊စွန့်လွှတ်ခြင်းသို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကိုပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှားသောငွေကြေးများကိုပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့်ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကိုအပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသောအခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသောအာမခံစာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင်အဆိုပါ အစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့်အဆိုပါငွေချေးစာချုပ်များ၊ ဒီဘင်ချာများသို့မဟုတ်ကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကိုအပေါင်ပြု၍ဖြစ်စေ၊ထိုကဲ့သို့မဟုတ်ဘဲ ဖြစ်စေထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊အချို့တစ်ဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ်ပြုလုပ်သော တရားဥပဒေအရစွဲဆိုဆောင်ရွက်မှုများကိုတရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီကပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေးခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေးခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသောငွေကြေးများအတွက် ပြေစာများပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စားမည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်သလော အသုံးပြုရန်မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင်အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ်ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏(လက်ရှိနှင့်နောင်တွင်ရှိမည့်)ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့် ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့်အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆိုအတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့်အဆိုပါကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ်တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာသတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့်ကန်ထရိုက်စာချုပ်ချုပ်ဆိုခြင်းများကိုပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက်စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း၊ ၎င်းတို့နှင့်စပ်လျဉ်းသော ကိစ္စရပ်များကိုလည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက်မည်သည့်ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ်အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့ကသတ်မှတ်ပေးသည့် အချိန်နှင့်နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့်အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့် ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ်အစည်းအဝေးစတင်၍လုပ်ငန်းအတွက်ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန်သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ်အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြား နည်းသတ်မှတ်ပြဌာန်းခြင်းမရှိလျှင်ထုတ်ဝေထားသည့်မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ငါးဆယ်ရာခိုင်နှုန်း ထက်မနည်း ပိုင်ဆိုင်ကြသည့်(နှစ်ဦးထက်မနည်းသော)အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးမည့်အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများကထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့်အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကိုဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ်ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥဘောက်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့ကသတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးကအတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်းလည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟုထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန်ပြသထားရမည်။

## စာရင်းစစ်များ

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည်မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကိုလက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည်တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံးဒါရိုက်တာတစ်ဦးရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေကျခံခဲ့သည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအားဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ် [illegible] ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် [illegible] ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် [illegible]တွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| | ဦးကျော်ကျော်လွင် (ကုန်သည်)<br>အခန်းအမှတ်-၁၁၀၄၊ ရွှေဟင်္သာကွန်ဒို၊<br>ရွှေဟင်္သာလမ်း၊ လှိုင်မြို့နယ်၊<br>ရန်ကုန်မြို့။ | မြန်မာ<br>၇/ပမန(နိုင်)<br>၁၀၃၁၁၇ | ၂၅၀၀ | [signature] |
| ၂။ | ဦးပြည့်စုံဟိန်းဆွေ (ကုန်သည်)<br>အမှတ်-၂၇၅(ဒုတိယထပ်-ညာ)၊<br>လမ်း-၄၀၊ ကျောက်တံတားမြို့နယ်၊<br>ရန်ကုန်မြို့။ | မြန်မာ<br>၁၂/ကတတ(နိုင်)<br>၀၂၇၉၁၉ | ၂၅၀၀ | [signature] |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၈ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၁ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

[signature]

ဦးကျော်ဝင်း (B.Sc., H.G.P., R.L)
တရားရုံးချုပ်ရှေ့နေကြီး (၄၇၄၅)
၅၀/၀-ထပ်၊ အခန်း (စီ-၁)၊ ဘထူးလမ်း၊ ရန်ကုန်မြို့

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

**MEMORANDUM OF ASSOCIATION**

OF

# AYS MFG COMPANY LIMITED



I. The name of the Company is " **AYS MFG COMPANY LIMITED** ".

II. The registered office of the Company will be situated in the Union of Myanmar.

III. The object of which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorized capital of the Company is Ks. 2,000,000,000/- (Kyat Two Thousand Million Only) divided into (200,000 ) shares of Ks.10,000/- (Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

(1) To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in joint-venture with any local or foreign partners:-

(a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.

(b) Producing fertilizers, insecticides and animal feeds.

(c) Manufacturing of personal goods..

(d) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government .

(2) To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

(3) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

*PROVISO:-* *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Kyaw Kyaw Lwin (Merchant)<br>Room No.1104,<br>Shwe Hintha Condo,<br>Shwe Hintha Street,<br>Hlaing Township, Yangon. | Myanmar<br>7/Pa Ma Na<br>(Naing)103117 | 2500 | |
| 2. | U Pyayt Sone Hein Swe (Merchant)<br>No.275(2nd Floor-Right),<br>40th Street, Kyauktada Township,<br>Yangon. | Myanmar<br>12/Ka Ta Ta<br>(Naing)027919 | 2500 | |

Yangon. Dated the 1st day of February, 2008.

*It is hereby certified that the persons mentioned above put their signatures in my presence.*

U KYAW WIN (B.Sc,H.G.P.,R.L.)
ADVOCATE (4745)
50/1St. Fl; Room (C-1) Bank St; Yangon.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

**ARTICLES OF ASSOCIATION**

OF

# AYS MFG COMPANY LIMITED



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provision shall have effect:-

   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   (b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorized Capital of the Company is K.2,000,000,000/- ( Kyats Two Thousand Million Only) divided into 200,000 ( Two Hundred Thousand ) shares of K.10,000/- (Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such person and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Director.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIREDTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than (2 ) and not more than (15).

The First Directors shall be:-

(1) U Kyaw Kyaw Lwin

(2) U Pyayt Sone Hein Swe

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the dispatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Kyaw Kyaw Lwin (Merchant)<br>Room No.1104,<br>Shwe Hintha Condo,<br>Shwe Hintha Street,<br>Hlaing Township, Yangon. | Myanmar<br>7/Pa Ma Na<br>(Naing)103117 | 2500 | |
| 2. | U Pyayt Sone Hein Swe (Merchant)<br>No.275(2nd Floor-Right),<br>40th Street, Kyauktada Township,<br>Yangon. | Myanmar<br>12/Ka Ta Ta<br>(Naing)027919 | 2500 | ပြည့်စုံ |

Yangon. Dated the 1st day of February, 2008.

*It is hereby certified that the persons mentioned above put their signatures in my presence.*

U KYAW WIN (B.Sc,H.G.P.,R.L)
ADVOCATE (4745)
50/1St. Fl; Room (C-1) Bank St; Yangon



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက်စွဲ ၊၂၀၁၃ ခုနှစ်၊ဇွန် လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၅-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၃၄၀/၂၀၁၃ (၅၆၂၇)

၁။ AYS Mfg Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း (၂)၊ တွင်းသင်းတိုက်ဝန်ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၂၄၇/အေ)ရှိ မူလစက်ရုံမှ ပိုနေသောမြေလွတ်နှင့် မြေကွက်အမှတ် (၂၄၇/အီး)ရှိ မြေ (၀. ၁၂၇)ကေတို့အားငှားရမ်း၍ ခေတ်မီ ပဲခွဲသန့်စင် စက်ရုံတိုးချဲ့၍ သန့်စင်ပြီးပဲအမျိုးမျိုးထုတ်လုပ်ကာ ပြည်ပသို့တိုးချဲ့တင်ပို့ ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့်အကြောင်းကြား လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် မြို့ပြစီမံကိန်းနှင့်ညီညွတ်မှုရှိပြီး ပြည်သူတို့၏ လူမှုစီးပွားရေးကိုထိခိုက်နိုင်မှုမရှိပါ၊

(ခ) အဆိုပြုလုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား (၄၉)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် ဦးအောင်သက်မန်းထံမှ ဦးကျော်ကျော်လွင် (အဘ-ဦးမောင်လွင်)က ငှားရမ်းခအဖြစ် တစ်နှစ်လျှင်ကျပ်သိန်း(၆၀)နှုန်းဖြင့် (၅)နှစ်တစ်ကြိမ် စာချုပ်ချုပ်ဆိုပြီး (၃၀)နှစ်ငှားရမ်းလုပ်ကိုင်မည်ဖြစ်ပါသည်၊

(ဃ) အဆိုပြုလုပ်ငန်းမှာ သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်မှုမရှိပါ၊



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ်) ၉၅-၆၇-၄၀၆၁၀၆၁
☎-၀၆၇-၄၀၆၁၃၉၊၄၀၆၃၆၂

စာအမှတ်၊ရကဖ-၆(က)/မ- ၁၃၄၀/၂၀၁၃(၆၈၆၄ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇွန် လ ၁၇ ရက်

သို့

**မန်နေဂျင်းဒါရိုက်တာ**
AYS Mfg Co., Ltd.

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင် တင်ပြရန် ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) AYS Mfg Co., Ltd. ၏ ၃-၅-၂၀၁၃ ရက်စွဲပါ အဆိုပြုချက်

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆-၅-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ရကဖ-၆(က)/ မ-၁၃၄၀/ ၂၀၁၃ (၅၆၂၅)

(၃) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ (၇-၆-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၆)/ (၃၄၇၁/၂၀၁၃)

၁။ AYS Mfg Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း(၂)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၂၄၇/အေ)ရှိ မူလစက်ရုံမှ ပိုနေသော မြေလွတ်နှင့် မြေကွက်အမှတ် (၂၄၇/အီး)ရှိ မြေ(၀.၁၂၇)ဧက တို့အား ငှားရမ်း၍ ခေတ်မီ ပဲခွဲသန့်စင် စက်ရုံတိုးချဲ့၍ သန့်စင်ပြီး ပဲအမျိုးမျိုး ထုတ်လုပ်ကာ ပြည်ပသို့ တိုးချဲ့တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်ကျော်လွင် (အဘ-ဦးမောင်လွင်) မှ ရည်ညွှန်းချက်(၁)ပါ စာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ရည်ညွှန်းချက်(၂)ပါ စာဖြင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ အဆိုပြုကိစ္စအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် တစ်ဖက်ဖော်ပြပါ အချက်များကို ထည့်သွင်း ဆောင်ရွက်ရန်နှင့် လိုက်နာရန် သဘောထား ပြန်ကြားလာပါသည်-

(က) တိုးချဲ့အဆောက်အဦများ ဆောက်လုပ်နေစဉ်ကာလအတွင်း ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေးစွန့်ပစ်သည့် နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့် နည်းစနစ်၊ စက်ရုံအတွင်း လေဝင်၊ လေထွက်စနစ် ကောင်းမွန်စေရေးနှင့် ကုန်သိုလှောင်ရုံများ ဆောက်လုပ်ရာတွင် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျ ထည့်သွင်း တည်ဆောက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများအား မြစ်၊ ချောင်းများ အတွင်းသို့ တိုက်ရိုက် မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်နှင့် စွန့်ပစ်အဆီ/ အရည်/ ပစ္စည်းများစီမံခန့်ခွဲမှု အစီအမံများ ၊ စီမံချက်များရေးဆွဲထားရန်၊

(ဂ) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ပြုလုပ်၍ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan - EMP) ရေးဆွဲပြုစု တင်ပြစေပြီး စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပြဋ္ဌာန်းချက်များနှင့် ဆက်လက်ထုတ်ပြန် ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ သဘောထားနှင့် အကြံပြုချက်များ ရယူဆောင်ရွက်ရန်၊

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ
ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ်) ၉၅-၆၇-၄၀၆၁၀၆၁
☎-၀၆၇-၄၀၆၁၃၉၊၄၀၆၃၆၂

စာအမှတ်၊ရက-၆(က)/မ- ၁၃၄၀/၂၀၁၃(၆၈၆၄ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇွန် လ 27 ရက်

သို့

**မန်နေဂျင်းဒါရိုက်တာ**
AYS Mfg Co., Ltd.

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင် တင်ပြရန် ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) AYS Mfg Co., Ltd. ၏ ၃-၅-၂၀၁၃ ရက်စွဲပါ အဆိုပြုချက်

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၆-၅-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၃၄၀/ ၂၀၁၃ (၅၆၂၅)

(၃) ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ (၇-၆-၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ၂/၂၂၀(ခ)(၆)/ (၃၄၇၁/၂၀၁၃)

၁။ AYS Mfg Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း(၂)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၂၄၇/အေ)ရှိ မူလစက်ရုံမှ ပိုနေသော မြေလွတ်နှင့် မြေကွက်အမှတ် (၂၄၇/အီး)ရှိ မြေ(၀.၁၂၇)ဧက တို့အား ငှားရမ်း၍ ခေတ်မီ ပဲခွဲသန့်စင် စက်ရုံတိုးချဲ့၍ သန့်စင်ပြီး ပဲအမျိုးမျိုး ထုတ်လုပ်ကာ ပြည်ပသို့ တိုးချဲ့တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်ကျော်လွင် (အဘ-ဦးမောင်လွင်) မှ ရည်ညွှန်းချက်(၁)ပါ စာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ရည်ညွှန်းချက်(၂)ပါ စာဖြင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ အဆိုပြုကိစ္စအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် တစ်ဖက်ဖော်ပြပါ အချက်များကို ထည့်သွင်း ဆောင်ရွက်ရန်နှင့် လိုက်နာရန် သဘောထား ပြန်ကြားလာပါသည်-

(က) တိုးချဲ့အဆောက်အဦများ ဆောက်လုပ်နေစဉ်ကာလအတွင်း ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေးစွန့်ပစ်သည့် နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့် နည်းစနစ်၊ စက်ရုံအတွင်း လေဝင်၊ လေထွက်စနစ် ကောင်းမွန်စေရေးနှင့် ကုန်သိုလှောင်ရုံများ ဆောက်လုပ်ရာတွင် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျ ထည့်သွင်းတည်ဆောက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများအား မြစ်၊ ချောင်းများ အတွင်းသို့ တိုက်ရိုက် မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်နှင့် စွန့်ပစ်အဆီ/ အရည်/ ပစ္စည်းများစီမံခန့်ခွဲမှု အစီအမံများ ၊ စီမံချက်များရေးဆွဲထားရန်၊

(ဂ) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ပြုလုပ်၍ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan - EMP) ရေးဆွဲပြုစု တင်ပြစေပြီး စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပြဋ္ဌာန်းချက်များနှင့် ဆက်လက်ထုတ်ပြန် ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ သဘောထားနှင့် အကြံပြုချက်များ ရယူဆောင်ရွက်ရန်၊

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ

ရုံးအဖွဲ့ဝင်များ ... စာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

M-1000
13-6-13

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇွန် လ ၁၃ ရက်

DOG 28/1376

အကြောင်းအရာ။ **AYS Mfg Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ လှိုင်သာယာစက်မှုဇုန်တွင် ခေတ်မီ ပဲခွဲသန့်စင်စက်ရုံတိုးချဲ့၍ သန့်စင်ပြီး ပဲအမျိုးမျိုး ထုတ်လုပ်ကာ ပြည်ပသို့တိုးချဲ့တင်ပို့ ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ AYS Mfg Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း(၂)၊ တွင်းသင်းတိုက်ဝန် ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် (၂၄၇/အေ)ရှိ မူလစက်ရုံမှ ပိုနေသောမြေလွတ်နှင့် မြေကွက်အမှတ် (၂၄၇/အီး)ရှိ မြေ(၀.၁၂၇) ဧကတို့အား ငှားရမ်း၍ ခေတ်မီ ပဲခွဲသန့်စင် စက်ရုံ တိုးချဲ့၍ သန့်စင်ပြီး ပဲအမျိုးမျိုး ထုတ်လုပ်ကာ ပြည်ပသို့တိုးချဲ့ တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီး မြှုပ်နှံသူ ဦးကျော်ကျော်လွင်(အဘ-ဦးမောင်လွင်) မှ အဆိုပြုချက် တင်ပြခြင်းကို လက်ခံ ရရှိခဲ့ ပါသည်။

၂။ အဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ အောက်ဖော်ပြပါ အချက်များကို ထည့်သွင်း ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) တိုးချဲ့အဆောက်အဦများ ဆောက်လုပ်နေစဉ် ကာလအတွင်း ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် တည်ဆောက်မှုနည်းစနစ်၊ မိလ္လာအညစ်အကြေး စွန့်ပစ်သည့် နည်းစနစ်၊ ရေဆိုးနှင့် အညစ်အကြေးများ ပြန်လည်သန့်စင်သည့် နည်းစနစ်၊ စက်ရုံအတွင်း လေဝင်၊ လေထွက်စနစ် ကောင်းမွန်စေရေးနှင့် ကုန်သို လှောင်ရုံများ ဆောက်လုပ်ရာတွင် အရေးပေါ် မီးသတ်ရန် ရေကန်များအား စနစ်တကျ ထည့်သွင်း တည်ဆောက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများ အား မြစ်၊ ချောင်းများ အတွင်းသို့ တိုက်ရိုက် မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဌာန်းထားသော စံချိန်စံညွှန်းထိရောက်အောင် သန့်စင်ပြီးမှ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာ မည့်စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများအား မြစ်၊ချောင်းများ အတွင်းသို့ တိုက်ရိုက်မစွန့်ပစ်ဘဲ စက်မှုဝန်ကြီးဌာနမှ ပြဌာန်းထားသော စံချိန် စံညွှန်း ထိရောက်အောင် သန့်စင်ပြီးမှ စွန့်ပစ်ရန်နှင့် စွန့်ပစ်အဆီ/ အရည်/ ပစ္စည်းများ စီမံခန့်ခွဲမှု အစီအမံများ ၊ စီမံချက်များရေးဆွဲထားရန်၊

(ဂ) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial

Environmental Examination-IEE) ပြုလုပ်၍ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan - EMP) ရေးဆွဲပြုစုတင်ပြစေပြီး စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေပြဋ္ဌာန်းချက်များနှင့် ဆက်လက်ထုတ်ပြန်ပြဋ္ဌာန်းမည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နည်းဥပဒေများ၊ ယင်းဥပဒေ၊ နည်းဥပဒေများအရ ထုတ်ပြန်သွားမည့် စံချိန်စံညွှန်းများ၊ စည်းမျဉ်း စည်းကမ်းများအား လိုက်နာဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ သဘောထားနှင့် အကြံပြုချက်များ ရယူဆောင်ရွက်ရန်၊

၃။ အထက်အပိုဒ်ပါ သဘောထားများနှင့်အညီ ပြင်ဆင်တင်ပြပေးရန်အတွက် ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

13/6

(ဝင်းမို့မို့အေး)
ဒု-ဦးစီးမှူး

**ဦးစီးအရာရှိ**

၄။ [illegible]

13/6/2013

ဦးစီးအရာရှိ

၅။ [illegible]

13.6.13

၆။ [illegible]



14.6.13

14/6/2013



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

**စာအမှတ်** ၂/၂၂၀(ခ)(၆)/(၃၄၅၂ /၂၀၁၃)
**ရက်စွဲ** ၂၀၁၃ ခုနှစ်၊ ဇွန်လ ၇ ရက်

သို့
/ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ AYS Mfg Co., Ltd မှ ခေတ်မီပဲခွဲသန့်စင်စက်ရုံ တိုးချဲ့တည်ဆောက်ပြီး သန့်စင်ပြီး ပဲအမျိုးမျိုးထုတ်လုပ်ကာ ပြည်ပသို့တိုးချဲ့တင်ပို့ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် တောင်းခံခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၅-၂၀၁၃ ရက်စွဲပါစာအမှတ်-ရက - ၆ (က) / မ - ၁၃၄၀ / ၂၀၁၃ (၅၆၂၅)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ AYS Mfg Co., Ltd သို့ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း(၂)၊ တွင်းသင်းတိုင်ဝန် ဦးထွန်းညိုလမ်း၊ မြေကွက်အမှတ် ၂၄၇ (A) ရှိ မူလစက်ရုံမှ ပိုနေသော မြေလွတ်နှင့် မြေကွက်အမှတ် (၂၄၇/အီး) ရှိ မြေ (၀.၁၂၇ ဧက) ပေါ်တွင် ခေတ်မီပဲခွဲသန့်စင်စက်ရုံ တိုးချဲ့တည်ဆောက်ပြီး သန့်စင်ပြီးပဲအမျိုးမျိုးထုတ်လုပ်၍ ပြည်ပသို့တင်ပို့ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို စိစစ်ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာအား စိစစ်ရာတွင် တစ်နာရီ (၅)တန်ကျ၊ ခေတ်မီပဲခွဲသန့်စင်စက်ရုံတည်ဆောက်၍ သန့်စင်ပြီးပဲအမျိုးမျိုးထုတ်လုပ်ကာ ပြည်ပသို့တင်ပို့ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် (၆၈၈/၂၀၀၈)ကို (၁၉-၆-၂၀၀၈)ရက်နေ့တွင် ရရှိခဲ့ပြီး စီးပွားဖြစ်ထုတ်လုပ်မှုကို (၁၆-၁၂-၂၀၀၈)ရက်နေ့တွင် စတင်ခဲ့ကြောင်း၊ နောက်ထပ်စက်ရုံတစ်ခုနှင့် ကုန်သိုလှောင်ရုံတစ်ခုအား ခေတ်မီပဲခွဲသန့်စင်စက်ရုံ တိုးချဲ့တည်ဆောက်ပြီး သန့်စင်ပြီး ပဲအမျိုးမျိုးအား ပြည်ပသို့ (၁၀၀%) တင်ပို့၍ ဘေးထွက်ပစ္စည်းများအား ပြည်တွင်း၌ ရောင်းချသွားမည်ဖြစ်ကြောင်း၊ အဆိုပြုလွှာနှင့်အတူ မီးဘေးအန္တရာယ်ကြိုတင်

